




သုံး (၃)လကြိုတင်၍ "အငှားချထားသူ"သို့ စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦး နှစ်(၅၀)ငှားရမ်းပြီး တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း (၂)ကြိမ်အထိ မြေငှားသက်တမ်းတိုးမြှင့်ခြင်းသည် နှစ်ဖက်သဘောတူညီချက်ရရှိပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

၁၂။ စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်

ဤစာချုပ်သည် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ အကျိုးသက်ရောက်စေရမည်။

၁၃။ အငြင်းပွားမှုဖြေရှင်းခြင်း

ဤမြေငှားစာချုပ်မှ အငြင်းပွားမှုပေါ်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းစွာ ညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ ညှိနှိုင်းဖြေရှင်းမရပါက ဥပဒေနှင့်အညီ စီရင်ဆုံးဖြတ်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

၁၄။ စာချုပ်ရပ်စဲခြင်း

(က) ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ဖော်ပြပါ အကြောင်းအချင်းရာတစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင် စာချုပ်ကို ရပ်စဲနိုင်သည် -

(၁) ဤစာချုပ်ပါ အဓိကတာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(၂) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း (၆)လ ကာလကြာမြင့်ခြင်း။

(၃) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(၄) နှစ်ဖက်သဘောတူ စာချုပ်ရပ်စဲခြင်း။

(ခ) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုကြောင်း စာဖြင့်ရေးသားတင်ပြချက်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး နောက်မှသာ အကျိုးသက်ရောက်မှု ရှိစေရမည်။






(ဂ) အထက်ဖော်ပြပါ အကြောင်းအရာများကြောင့် စာချုပ်ရုပ်စဲသည့်အခါ စာချုပ်ရုပ်စဲပြီးနောက် (၃)လအတွင်း မြေနှင့်တကွ မြေပေါ်ရှိ အဆောက်အဦ၊ တပ်ဆင်ထားသော ပစ္စည်းများအပါအဝင် အားလုံးတို့ကို "အငှားချထားခြင်းခံရသူ"က "အငှားချထားသူ"သို့ အဖိုးစားနားမဲ့ ပြန်လည်ပေးအပ်ရမည်။

၁၅။ ညှိနှိုင်းဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း

လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများ (သို့မဟုတ်) စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စလုံး လိုအပ်သော ညှိနှိုင်း ဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူစာဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောတူမှသာလျှင် အတည်ဖြစ်စေရမည်။

၁၆။ ဓါတ်သတ္တု အရင်းအမြစ်များနှင့် ရတနာများ

ဤစာချုပ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းသည့် အဆောက်အဦများနှင့် မြေ၏ မြေပေါ်မြေအောက်အတွင်းမှ ဓါတ်သတ္တု အရင်းအမြစ်များနှင့် ရတနာများကို တွေ့ရှိရလျှင် "အငှားချထားခြင်းခံရသူ" က "အငှားချထားသူ"ထံသို့ ချက်ချင်းအကြောင်း ကြားရမည်။ "အငှားချထားသူ"က ထိုပစ္စည်းများကို ပိုင်ဆိုင်ရမည်ဖြစ်ပြီး "အငှားချထားသူ"သည် သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများသို့ အကြောင်းကြားတင်ပြပေးရမည်။ ထိုပစ္စည်းများကို သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

၁၇။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များ ကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ နစ်နာဆုံးရှုံးမှုအတွက်






လျော်ကြေးတောင်းခံခွင့် မရှိစေရ။ ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၇)ရက်အတွင်း "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ ချက်ချင်း စာဖြင့်ရေးသား အကြောင်းကြားရမည်။ "အငှားချထားသူ"က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး ထိုမလွန်ဆန်နိုင်သည့် အချိန်ကာလအတွင်း ဆိုင်းငံ့စေရမည်။ သို့ရာတွင် ဆိုင်းငံ့ကာလသည် အကျိုးအကြောင်းဆက်နွယ်မှုအရ လိုအပ်သည်ထက် ပို၍ မကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကို ခံရသူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ်ရမည်။

၁၈။ ဝန်ထမ်းများခန့်ထားခြင်း

လိုအပ်သော ဝန်ထမ်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ဥပဒေများနှင့်အညီ "အငှားချထားခြင်းခံရသူ"သည် ခန့်ထားပြီး ယင်းတို့၏ လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ခွင့်ပြုသွားရမည်။ နိုင်ငံခြားသားဝန်ထမ်းများကို ခန့်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ကို ကြိုတင်ရယူရမည်။ နိုင်ငံခြားသားဝန်ထမ်းများ၊ ယင်းတို့၏ မိသားစုများသည် မြန်မာနိုင်ငံတွင် နေထိုင်စဉ် မြန်မာနိုင်ငံ၏ ဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် "အငှားချထားခြင်းခံရသူ"က တာဝန်ယူရမည်။

၁၉။ လွှမ်းမိုးသည့်ဥပဒေနှင့် ကင်းလွတ်ခွင့်၊ သက်သာခွင့်များ

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်များ၊ အကောက်ခွန်ကင်းလွတ်ခွင့်များနှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရရှိစေရန် "အငှားချထားသူ"မှ ကူညီဆောင်ရွက်ပေးမည် ဖြစ်သည်။

၂၀။ လိုက်နာဆောင်ရွက်ရမည့် ဥပဒေ

နှစ်ဖက်သော စာချုပ်ဝင်များသည် ဤစာချုပ်မှ ပေါ်ပေါက်လာသည့် ၎င်းတို့၏ တာဝန်များကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ကြရမည်။






၂၁။ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်း

"အငှားချထားခြင်းခံရသူ"သည် စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်ရန်၊ ရေဆိုးများသန့်စင်စေရန် စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလုပ်ထားရမည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၂၂။ စာပေးစာယူပြုလုပ်ရန်ကိစ္စ

စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချော ပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့် ပို့ခြင်းတို့ကို အသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်း ဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေး အကြောင်းကြားရမည် –

(က) **အငှားချထားသူ**
ဦးမင်းထိန်
ညွှန်ကြားရေးမှူးချုပ်
မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
ရုံးအမှတ်(၄၀)၊ နေပြည်တော်။
ဖုန်းနံပါတ် – ၀၆၇-၄၀၇၃၁၀
ဖက်စ်နံပါတ် – ၀၆၇-၄၀၇၄၄၆

( ခ) **အငှားချထားခြင်းခံရသူ**
**ဦးသောင်းထိုက်မင်း (အုပ်ချုပ်မှုဒါရိုက်တာ)**
THU KHA YADANAR CO., LTD၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ သီရိမင်္ဂလာလမ်း၊ မြို့တော်ဂေါက်ကွင်းအပန်းဖြေဟိုတယ်ဝန်း။






ဖုန်းနံပါတ် - ၀၁-၂၄၃၁၃၀~၃၁ ၊ ၀၁-၂၄၃၁၃၄~၃၅ ၊ ၀၁-၃၇၄၂၇၇
ဖက်စ်နံပါတ် - ၀၁-၂၄၂၉၄၆

၂၃။ မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်

"အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းတို့ကြောင့် "အငှားချထားသူ"က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် "အငှားချထားသူ"သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းပျက်ကွက်မှုကို ရက်ပေါင်း(၃၀)အတွင်း ပြန်လည်၍ မှန်အောင် ပြင်ဆင်ခြင်းမပြုလျှင် "အငှားချထားသူ"သည် ငှားရမ်းသည့်မြေပေါ်သို့ ပြန်လည်ဝင်ရောက်ခွင့်၊ မြေအားလုံးကို ပြန်လည် ရယူခွင့်ရှိသည့်အပြင် ထိုသို့ရယူချိန်မှစ၍ မြေငှားရမ်းမှုကို ရပ်စဲ ပြီးဆုံးစေရမည်။ မြေသို့ပြန်လည်ဝင်ရောက်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ"ထံမှ အခွင့်အရေးနှင့် တောင်းဆိုပိုင်ခွင့်များ ကို မထိခိုက်စေရ။

၂၄။ အာမခံထားခြင်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်သော အမျိုးအစား အားလုံး အာမခံများ ထားပေးရမည်။

၂၅။ အထွေထွေ

ဤစာချုပ်တွင်ပါရှိသည့် မြေပုံ မြေရာဇဝင် စာရွက်စာတမ်း၊ အဆင့်မြင့် Residential and Club House အဆောက်အဦ ပုံစံများ၊ အဆောက်အထားများသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။ ဤစာချုပ်သည် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများအားလုံးကို လွှမ်းမိုးသည်။ ဤစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် သိရှိသဘောပေါက် နားလည်ပြီး သဘောတူလက်ခံပါသဖြင့် ၂၀၁၆-ခုနှစ်၊ မတ်လ၊ (      )ရက်နေ့တွင် မိမိတို့၏ တံဆိပ်လက်မှတ်များကို ရိုက်နှိပ်ရေးထိုးကြပါသည်။






"အငှားချထားသူ" (ကိုယ်စား)

27/2/16

ဦးမင်းထိန်
ညွှန်ကြားရေးမှူးချုပ်
မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
ရုံးအမှတ်(၄၀)၊ နေပြည်တော်

"အငှားချထားခြင်းခံရသူ" (ကိုယ်စား)

17/3/2016

ဦးသောင်းထိုက်မင်း
အုပ်ချုပ်မှုဒါရိုက်တာ
THU KHA YADANAR CO., LTD

အသိသက်သေများ

၁။ လက်မှတ် ---------------------
အမည် ---------------------
ရာထူး ---------------------
လိပ်စာ ---------------------
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

၂။ လက်မှတ် --------------------- 17/3/2016
အမည် ---------------------
ရာထူး ---------------------
လိပ်စာ THU KHA YADANAR CO., LTD

ဆောက်လုပ်ရေးဝန်ကြီးဌာန

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၊ မြေနှင့်အိမ်ရာဌာနခွဲ

BLOCK NO ....[illegible]........ CIRCLE .....[illegible]........ YANGON Page No........

| ORIGINAL RECORDS | | | | | B.PARTICULARS OF TRANSFER | | |
|---|---|---|---|---|---|---|---|
| Holding No or Allotment | Total Area of Holding | Name and residence of person (if any)in possession next under Govt, by grant, lease or otherwise | Nature of title of person recorded in Column | Rent of Revenue | No. and date of registered deed of Transfer | Name and residence of Transferee | Nature of Transfer |
| 1 | 2 | 3 | 4 | 5 | 6 | 7 | 8 |
| [illegible] | [illegible] | ဆောက်လုပ်ရေးဝန်ကြီးဌာန | [illegible] | - - - | - - - | - - - | - - - |

K 200

မကောက်နုတ်ချက်မိတ္တူမှန်

၂၀၁၈-၂၀၁၉ ခုနှစ်သုံးမြေပုံ/မြေစာရင်းမှ ကူးယူသော ကောက်နုတ်ချက် မိတ္တူမြေပုံ/မြေရာဇဝင်ဖြစ်၍ [illegible] မခံနိုင်ပါ။

ဒုတိယညွှန်ကြားရေးမှူး
မြေတိုင်းနှင့်မြေစာရင်းမှတ်တမ်းဌာနခွဲ
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

လက်ထောက်ညွှန်ကြားရေးမှူး
မြေတိုင်းနှင့်မြေစာရင်းမှတ်တမ်းဌာနခွဲ
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

[illegible](မြေတိုင်း)
မြေတိုင်းနှင့်မြေစာရင်းမှတ်တမ်းဌာနခွဲ
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

Thu Kha Yadanar Co.,Ltd

နောက်ဆက်တွဲ-( ၁ )

## Rent Schedule

| No. | Building | Gross Floor Area ( sqm ) | Net Floor Area ( sqm ) 65% | Lease Rate US$/sqm/year | Construction Period | | | | | | Operation Period |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 to Year 53 |
| 1 | **Phase 1** | | | | | | | | | | |
| | Residential 1<br>Residential 2 | 21,800 | 14,170 | 15 | - | - | - | 212,550 | 212,550 | 212,550 | 212,550 |
| 2 | **Phase 2** | | | | | | | | | | |
| | Residential 3<br>Residential 4<br>Residential 5<br>Residential 6<br>Residential 7 | 62,163 | 40,405.95 | 15 | - | - | - | - | - | - | 606,089.25 |
| 3 | **Common Public Area** | | | | | | | | | | |
| | Club House | 3,000 | | | | | | | | | |
| | Basement Car Parking | 31,000 | | | | | | | | | |
| | **Total** | **117,963** | **54,575.95** | | | | | **212,550** | **212,550** | **212,550** | **818,639.25** |

Thu Kha Yadanar Co.,Ltd

နောက်ဆက်တွဲ-( ၈ )

# Development Schedule

| No. | Description | Gross Floor Area ( sqm ) | Non Gross Floor Countable Area (sqm) | Construction Period |
|---|---|---|---|---|
| 1 | **Phase 1** | | | |
| | 12.5 Storey Residential (2) Nos | 21,800.00 | | Year 2016 to 2019 |
| | 2 Storey Club House (1) No | | 3,000.00 | |
| | Basement Car Parking | | 8,089.00 | |
| 2 | **Phase 2** | | | |
| | 12.5 Storey Residential (5) Nos | 62,163.00 | | Year 2019 to 2022 |
| | Basement Car Parking | | 22,911.00 | |
| | **Total** | **83,963** | **34,000.00** | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပုံစံ (မနသ-၂)
စာအမှတ် ...
ရက်စွဲ ...
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၃၉ / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးသောင်းထိုက်မင်း

(ခ) အဘ အမည် ဦးကျော်လွင်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၉ / မထလ (နိုင်) ၀၀၁၉၃၀

(ဃ) နေရပ်လိပ်စာ အမှတ်(၆၂-အီး)၊ ရွှေဟင်္သာလမ်း၊ (၁၁)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း THU KHA YADANAR COMPANY LIMITED (သုခရတနာကုမ္ပဏီလီမိတက်)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက် အမှတ်(၂၀ အေ၊ ၄၆-ဘီ)၊ မြေကွက်အမှတ်(၈၊ ၈-A/၂ ၊ ၂/၂-၂၊၂/၂-၃) ၊ အမှတ်(၂၉)၊ စိန့်ဂျွန်းအုပ်စု သိုလှောင်ရုံဝင်းရှိ မြေ(၄.၉၈)ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၈၂၈၉၆.၀၀ သန်း( အမေရိကန်ဒေါ်လာ ၅၄.၁၉ သန်း အပါအဝင် စုစုပေါင်း ကျပ် ရှစ်သောင်းနှစ်ထောင်ရှစ်ရာ ကိုးဆယ့်ခြောက်သန်း တိတိ )

(ဈ) တည်ဆောက်မှုကာလ ၆ နှစ်

(ည) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ ၂၅ /၂၀၁၆ (မနသ)
## ၂၀၁၆ ခုနှစ် မတ် လ ၁၆ ရက်

၁။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)သည် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀ အေ၊ ၄၆-ဘီ)၊ မြေကွက် (၈၊ ၈-A/၂ ၊ ၂/၂-၂၊ ၂/၂-၃)၊ အမှတ်(၂၉)၊ စိန့်ဂွန်း အုပ်စုသိုလှောင်ရုံဝင်းအတွင်းရှိ မြေဧရိယာ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ် လ ၄ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၈/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၃၉/၂၀၁၆ကို ထုတ်ပေးလိုက်သည်။

၂။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)အနေဖြင့် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန် တကယ်အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန် အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေ ငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦးနှစ် (၅၀)နှင့် သက်တမ်းတိုး မြှင့်မည့်ကာလမှာ (၁၀)နှစ် သက်တမ်း(၂)ကြိမ်ဖြစ်သည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၇။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေဧရိယာ တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂.၀၀ သန်းနှုန်းဖြင့် မြေဧရိယာ ၄.၉၈ ဧကအတွက် စုစုပေါင်း အမေရိကန်ဒေါ်လာ ၉.၉၆ သန်း အား အောက်ပါအတိုင်း ၄ ကြိမ်ခွဲ၍ ပေးသွင်းရမည် -

(က) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား စာချုပ်လက်မှတ်ရေးထိုးပြီး ၁၈ လ အတွင်း

(ခ) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၈ လ အတွင်း

(ဂ) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၁၆ လ အတွင်း

(ဃ) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၂၄ လ အတွင်း

၈။ နှစ်စဉ် မြေငှားရမ်းခအား ၁ နှစ်လျှင် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၅ နှုန်းဖြင့် စုစုပေါင်းကြမ်းခင်းဧရိယာ၏ ၆၅ % ကို ငှားရမ်းနိုင်သော ဧရိယာအဖြစ် သတ်မှတ်၍ ပေးချေရမည်။

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) တို့ B.O.T စနစ်ဖြင့် မြေ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၁။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)သည် လုပ်ငန်း ဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန် လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦအတွက် အမှန်တကယ် လိုအပ်သော ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှ တင်သွင်းသည့်အခါ ပစ္စည်းအမျိုးအစားနှင့် အရေအတွက်ကို BQ တွင် ဖော်ပြထားသည့် အတိုင်း မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၃။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA )၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၄။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ၎င်းကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန ၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၅။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ၎င်းခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၆။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေးအစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေ ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၉။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၀။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရ မည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ် ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရ ဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ် ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၅၃၄/၂၀၁၆( ၄၃၀ - ၈ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

၃

အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

မန်နေဂျင်းဒါရိုက်တာ၊ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)

အကြောင်းအရာ ။ <u>မြေပုံမြေရာဇဝင်နှင့် မြေတိုင်းမြေပုံပေးပို့ခြင်း</u>

ရည်ညွှန်းချက် ။ [illegible] ဌာနခွဲ၏ ၃.၂.၂၀၁၆

ရက်စွဲပါစာအမှတ်၊ [illegible] / ၂၀၁၆ ( [illegible] )

ရည်ညွှန်းပါ ရန်ကုန်တိုင်းဒေသကြီး [illegible] မြို့နယ်၊

မြေတိုင်းရပ်ကွက် အမှတ် ( ၂၀ A , ၄/၁၆ [illegible] )၊ မြေကွက်အမှတ် ( ၈,၈A, ၂/၂-၂, ၂/၂-၃ / ၅A/၂ , ၂-A/၄ )၊ ဧရိယာ

( — )၏ မြေပုံ/မြေရာဇဝင်/မြေတိုင်း မြေပုံ ( )တို့ကို ပေးပို့အပ်ပါသည်။

ပူးတွဲပါ -

- မြေတိုင်းမြေပုံ ( cmap ) ( ၂ ) ပုံ
- ~~မြေပုံ မိတ္တူ~~ ( ) ပုံ
- မြေရာဇဝင် ( ၂ ) စောင်

<u>ဒုတိယညွှန်ကြားရေးမှူး</u>

[illegible] ဌာနခွဲ [illegible]

ရုံးတွင်းစာအမှတ်၊ မတ / အထထ - ၂/၂၀၁၆/ ( ၇၅၆ )

ရက်စွဲ ။ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီ လ ( ၄ ) ရက်

မိတ္တူကို -

- ရုံးလက်ခံ
- မျှောစာတွဲ

ဆောက်လုပ်ရေးဝန်ကြီးဌာန

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၊ မြေနှင့်အိမ်ရာဌာနခွဲ

BLOCK NO [illegible] CIRCLE [illegible] YANGON Page No. ........

| ORIGINAL RECORDS | | | | | B.PARTICULARS OF TRANSFER | | |
|---|---|---|---|---|---|---|---|
| Holding No or Allotment | Total Area of Holding | Name and residence of person (if any)in possession next under Govt, by grant, lease or otherwise | Nature of title of person recorded in Column | Rent of Revenue | No. and date of registered deed of Transfer | Name and residence of Transferee | Nature of Transfer |
| 1 | 2 | 3 | 4 | 5 | 6 | 7 | 8 |
| [illegible] | [illegible] | [illegible] | [illegible] | - - - | - - - | - - - | - - - |

၂၀၁၄-၂၀၁၅ ခုနှစ်သုံး မြေပုံ/မြို့မြေစာရင်းမှ ကူးယူသော ကောက်နုတ်ချက် မိတ္တူ မြေပုံ/မြေစာရင်းဖြင့် သက်ဆိုင်ရာ ကြောင်းထောက်ခံပါသည်။

ဒုတိယညွှန်ကြားရေးမှူး
မြေတိုင်းနှင့်မြေစာရင်းမှတ်တမ်းဌာနခွဲ
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

လက်ထောက်ညွှန်ကြားရေးမှူး
မြေတိုင်းနှင့်မြေစာရင်းမှတ်တမ်းဌာနခွဲ
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ကောက်နုတ်ချက်မိတ္တူမှန်

အဖွဲ့ခွဲမှူး(မြေတိုင်း)
မြေတိုင်းနှင့်မြေစာရင်းမှတ်တမ်းဌာနခွဲ
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

K 200

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
နေပြည်တော်

တယ်လီဖုန်း - ၀၆၇-၄၀၇၃၁၁ ဖက်(စ်) - ၀၆၇-၄၀၇၃၁၁,၄၀၇၃၁၇

စာအမှတ်၊မရ/ပဆရ/သုခရတနာ/၂၀၁၆(၂၆၁)
ရက်စွဲ ၊၂၀၁၆ ခုနှစ်၊ မတ်လ ၂၄ ရက်

သို့

ဦးသောင်းထိုက်မင်း
မန်နေးဂျင်းဒါရိုက်တာ
သုခရတနာကုမ္ပဏီလီမိတက်

အကြောင်းအရာ။ BOT သဘောတူစာချုပ် အရ စရံငွေပေးသွင်းရန်ကိစ္စ

ရည်ညွှန်းချက် ။
(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် - မနသ - ၁၁၃၉/၂၀၁၆ (၁၆-၃-၂၀၁၆)
(၂) မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန နှင့် သုခရတနာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုခဲ့သည့် (၁၇-၃-၂၀၁၆) ရက်စွဲပါ BOT သဘောတူစာချုပ်
(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂ - ၃ - ၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-ထွေ/၂၀၁၆(၄၆၂)

၁။ ရည်ညွှန်း(၁)ပါခွင့်ပြုမိန့်အရ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနမှ စီမံခန့်ခွဲသည့် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ အမှတ်(၂၉)၊ မင်းရဲကျော်စွာ လမ်း၊ ကကခ-(၁)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧကပေါ်တွင် Residence & Club House လုပ်ငန်းဆောင်ရွက်ရန် သုခရတနာကုမ္ပဏီလီမိတက်သို့ (၁၇-၃-၂၀၁၆) ရက်စွဲပါ BOT သဘောတူစာချုပ်ချုပ်ဆို၍ ငှားရမ်းခဲ့ပါသည်။

၂။ BOT သဘောတူစာချုပ်ပါ အပိုဒ် - ၆(က-၁) အရ ကုမ္ပဏီမှ မြေအသုံးချမှု ပရီမီယံကြေး အမေရိကန်ဒေါ်လာ ၉,၉၆၀,၀၀၀ အနက်မှ စရံငွေအဖြစ် အမေရိကန်ဒေါ်လာ ၅၀၀,၀၀၀ကို စာချုပ်ချုပ်ဆိုပြီးသည့်နေ့မှစ၍ တစ်လအတွင်း ဌာနသို့ ပေးသွင်းရမည် ဖြစ်ပါသည်။

၃။ သို့ပါ၍ ကုမ္ပဏီအနေဖြင့်BOTသဘောတူစာချုပ်ပါ အပိုဒ် (၆-က)အရ မြေအသုံးချမှု ပရီမီယံကြေး စရံငွေ အမေရိကန်ဒေါ်လာ ၅၀၀,၀၀၀ နှင့်ညီမျှသော မြန်မာကျပ်ငွေ ၄၉၄,၈၁၄,၃၀၀ (ကျပ်လေးထောင့် ကိုးရာ လေးဆယ့် ရှစ်သိန်း တစ်သောင်း လေးထောင် သုံးရာ တိတိ) အား (၈-၄-၂၀၁၆) ရက်နေ့ နောက်ဆုံးထားပေးသွင်းပါရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မိုးသီတာ၊ ဒုတိယညွှန်ကြားရေးမှူး)
ပြည်သူ့ဆက်ဆံရေး

မိတ္တူကို -
- ညွှန်ကြားရေးမှူး(စီမံရေးရာ)၊ (ဘဏ္ဍာရေး)
- ရုံးလက်ခံ
- မျှောစာတွဲ

**THU KHA YADANAR COMPANY LIMITED.**
Room (B), Business Center, City Golf Resort Hotel, Thirimingalar Road,
Ywarma, Insein, Yangon.
Phone 95-1-641763~7 Fax : 95-1-641701

---

သို့

ညွှန်ကြားရေးမှူးချုပ်
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
နေပြည်တော်

စာအမှတ် ။ ။ 011 / TKY / 2016.
ရက်စွဲ ။ ။ ၂၀၁၆-ခုနှစ်၊ မတ် လ ( ၃၁ )ရက်။

အကြောင်းအရာ ။ ။ မြေအသုံးချမှု Premium ကြေး Deposit ငွေ ပေးသွင်းခွင့်ပြုပါရန် တင်ပြခြင်း။
ရည်ညွှန်းချက် ။ ။ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၏ ၂၀၁၆ခုနှစ်၊မတ်လ (၂၄)ရက်နေ့ ရက်စွဲပါ စာအမှတ်၊ မရ/ပဆရ/သုခရတနာ/၂၀၁၆ (၂၆၁)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များ Thu Kha Yadanar Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ အမှတ်(၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကကခ(၁)၊ စိန်ဂွန်းအုပ်စုသို့လျောင်ရှိ မြေ(၄.၉၈)ကေအား မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် တည်ဆောက်၊ ဆောင်ရွက်၊ လွှဲပြောင်းခြင်းစနစ်ဖြင့် နှစ်ရှည်ငှားရမ်းခွင့်ရရှိထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနမှ ကျွန်တော်များ ကုမ္ပဏီထံသို့ မြေ (၄.၉၈)ကေအတွက် မြေအသုံးချမှု Premium ကြေး Deposit ငွေ အမေရိကန်ဒေါ်လာ (၅၀၀,၀၀၀)နှင့်ညီမျှသော မြန်မာကျပ်ငွေ ၅၉၄,၈၁၄,၃၀၀ (ကျပ် လေးထောင့်ကိုးရာ လေးဆယ့်ရှစ်သိန်း တစ်သောင်း လေးထောင့် သုံးရာ တိတိ) အား ပေးသွင်းရန် အထက်ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသဖြင့် ကျွန်တော်များ ကုမ္ပဏီမှ ပေးသွင်းခွင့်ပြုပါရန် လေးစားစွာဖြင့် တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

*(signature)*

**U THAUNG HTIKE MIN**
**MANAGING DIRECTOR**
**THU KHA YADANAR CO., LTD**

မိတ္တူကို
- ရုံးလက်ခံ။

KBZ. 20000230
31.3.2016.

ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ငွေလက်ခံဖြတ်ပိုင်း

[illegible]
4.4.2016.

မူရင်း

MD-011049

နေ့စွဲ ၃၁.၃.၂၀၁၆

အမည် Thu Kha Yadanar Co., Ltd. အမျိုးသားမှတ်ပုံတင်အမှတ်

နေရပ် [illegible]

မြို့ [illegible]

| အကြောင်းအရာ | သင့်ငွေ | |
|---|---|---|
| | ကျပ် | ပြား |
| [illegible] | ၄၉၄,၈၁၄,၃၀၀ | ၀၀ |
| | | |

Treasury ..
Date.. 5/ 4/2016
Acct. MD0473
Challan 72
Amount 494814300.00

ဦး/ဒေါ် Thu Kha Yadanar Co., Ltd. ထံမှငွေပေါင်း ကျပ်. ၄၉၄,၈၁၄,၃၀၀/-

စာဖြင့်(ကျပ်[illegible])ကို အောက်ပါအတိုင်း လက်ခံရရှိပါသည်။

[illegible] /-

ဒုတိယညွှန်ကြားရေးမှူး
ဌာနခွဲ

လက်ခံသူ

ဦးစီးအရာရှိ
ပြည်သူ့ဆက်ဆံရေးဌာနစိတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

နေပြည်တော်

တယ်လီဖုန်း - ၀၆၇-၄၀၇၃၁၁ ဖက်(စ်)-၀၆၇-၄၀၇၃၁၁,၄၀၇၃၀၇

စာအမှတ်၊မရ/ပဆရ/TKYDN/၂၀၁၆( ၃၀၅ )

ရက်စွဲ ၊ ၂၀၁၆ခုနှစ် ၊ ဧပြီ လ ၆ ရက်

သို့

ဦးသောင်းထိုက်မင်း

မန်နေဂျင်းဒါရိုက်တာ

Thu Kha Yadanar Co.,Ltd

အကြောင်းအရာ။ Thu Kha Yadanar Co.,Ltd မှ မြေအသုံးချမှုပရီမီယံကြေး ပေးသွင်းခြင်း ကိစ္စ

ရည်ညွှန်းချက် ။ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန ၊ ဘဏ္ဍာရေးဌာနခွဲ၏ ၅-၄-၂၀၁၆ ရက်စွဲပါ ချလံအမှတ် - ၇၂

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ဤဦးစီးဌာနပိုင်အမှတ်(၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကကခ (၁)၊ စိန်ဂွမ်းအုပ်စုသိုလှောင်ရုံ၊ လမ်းမတော်မြို့နယ်ရှိမြေ (၄.၉၈)ဧကအား ငှားရမ်းခြင်း အတွက် Thu Kha Yadanar Co.,Ltd မှ ရည်ညွှန်းပါ ငွေသွင်းချလံဖြင့် ပေးချေသော အမေရိကန်ဒေါ်လာ ၅၀၀,၀၀၀နှင့် ညီမျှသော မြန်မာကျပ်ငွေ ၄၉၄,၈၁၄,၃၀၀ိ/ (ကျပ် လေးထောင့် ကိုးရာ လေးဆယ့် ရှစ်သိန်း တစ်သောင်း လေးထောင် သုံးရာ တိတိ) အား မြေအသုံးချမှုပရီမီယံကြေး အမေရိကန် ဒေါ်လာ ၉,၉၆၀,၀၀၀ အနက်မှ ကနဦးပေးသွင်းငွေအဖြစ် လက်ခံရရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(မြင့်ခိုင်၊ လက်ထောက်ညွှန်ကြားရေးမှူး)

ပြည်သူ့ဆက်ဆံရေးဌာနစိတ်

မိတ္တူကို - ညွှန်ကြားရေးမှူး ၊ ဘဏ္ဍာရေးဌာနခွဲ

- ရုံးလက်ခံ/ မျှောစာတွဲ

# JOINT VENTURE AGREEMENT

This Joint Venture Agreement is made in Yangon on this day of 2017.

**BETWEEN**

**Thu Kha Yadanar Co., Ltd.**, with its Head Office at Room (B),Business Center, City Golf Resort Hotel ,Thirimingalar Road , Ywarma (East) Ward ,Insein Township , Yangon Region , the Union of Myanmar (hereinafter referred to as" **Party A** " which expression shall , unless repugnant to the context or the meaning thereof, be deemed to include itself successors , permited assigns and legal representative ) and represented by **U Thaung Htike Min , Managing Director** on the otherpart;

**AND**

**China Nuclear Industry 22nd Construction Co., Ltd**, with its Head Office at No.(1) Wangjiang Road,Yiling District,Yichang City ,Hubei Province ,China ( hereinafter referred to as " Party B " which expression shall, unless repugnant to the context or the meaning thereof , be deemed to include its successors , permited assigns and legal representative ) and represented by **Mr. Chen Yushe, Director** on the otherpart;

**WHEREAS** both parties hereto are desirous of construction in the Union of Myanmar in Residence (7) nos. and Club House Building (1) no. and related activities and are desires of forming a private limited joint venture company in the Union of Myanmar under the name of **Red Roof Investment Development Co., Ltd.** ( hereinafter referred to as the " **Company** " ) under the Union of Myanmar Foreign Investment Law , having its objectives and regulation as set out in the Memorandum and Articles of Association.

Now, therefore, it is hereby agreed as follows;

**WARRANTY AND REPRESENTATION**

1. Each party represents and warrants to the other party that it is a legal entity duly authorized under the relevant laws and has the right , power, sound financial standing and authority to enter into this Agreement.

**FORMATION OF A JOINT VENTURE COMPANY**

Within sixty ( 60 ) days from the effective date of this Agreement, the Parties shall form a Private Limited Company under the Law of the Union of Myanmar to be named **Red Roof Investment Development Co., Ltd.,** where the liability of its members is limited to the nominal value of the shares issued and the Company shall conduct business activities according to the provisions of the Memorandum and Articles of Association.

3. When the provisions of this Agreement are in conflict or inconsistent with the provisions of Memorandum and Articles of Association,the provisions of this Agreement shall prevail.

**PLACE OF BUSINESS**

4. The registered office of the "**Company**" shall be in Yangon, Myanmar. The "**Company**" may also have such other places of business as may be determined by the Board of Directors.

**GENERAL OBJECTIVES**

5. The general objectives for the establishment of the Company are to construct,operate and lease the Residence and Club House Building in (4.98 ) acres of No. (29), Plot No. (8, 8A/2, 2/2-2, 2/2-3) Block No. (20A/46B), Min Ye Kyaw Swar Street, Lanmadaw Township, Yangon, the Union of Myanmar.

**OBLIGATIONS OF CONTRACTING PARTIES**

6. Pursuant to the terms of this Agreement, "**Party A**" shall ;

( a ) provide or arrange to be provided all necessary licence, permit approval for leasing of the site to the Company and establishment of construction.

( b ) be responsible for procuring all relevant and applicable reliefs, exemptions concessions and other investment incentives which are available to the Company in the course of carrying out the business under the present and future Law.

( c ) assist the Company to obtain all the facilities , services , supplies and materials from all available local sources at such price and speed as may be required by the Company to carry on the business in an efficient,profitable and timely manner.

( d ) assist the Company in processing all documentation in respect of the import of all supplies,material, equipment and Machinery from abroad.

7. Pursuant to the terms of this Agreement, "**Party B**" shall;

( a ) technical and management expertise to operate all aspects of the " Company "efficiently;

( b ) all necessary foreign currency financing for the purchase of foreign materials or service,all machinery and equipment for the Project.

( c ) make its capital contribution to " Company " as stated in Clause 8 ( b );

( d ) assist in engineering drawing, design;

( e ) assist in construction project.

**CAPITAL STRUCTURE**

8. ( a ) The Company is registered in Yangon, Myanmar with and authorized capital of USD 10,000,000( USD Ten Million Only ) made up of all shares having equal and ordinary rights and divided into (10,000,000) shares of USD 1(US$ One) each;

(b) The Share Capital Ratio of the Company shall be ;

| | | | |
|---|---|---|---|
| Party A = | Local Capital | 39% | consisting of 3,900,000 shares |
| Party B = | Foreign Capital | 61% | consisting of 6,100,000 shares |

Any profit or loss of the Company shall be shared according to the share capital ratio.

**INITIAL PAID UP CAPITAL AND PROVISION OF LOANS**

9. The initial paid - up capital of the Company will be USD 10,000,000 ( USD Ten million ) to be subscribed proportionately by " **Party A** " and " **Party B** ".

Party A = USD 3,900,000

Party B = USD 6,100,000

The paid up capital may be increased as per financial plan to be drawn up in phases depending on investment requirements.

10. The Company may also obtain loan for the purpose from Development Financial Institutions in Myanmar or from International Development Financial Agencies like ICBC,ADB,IDA, etc.

**TRANSFER OF SHARES**

11. Subject to the restrictions contained in the Articles of Association of the Company, shares shall be transferrable , but not otherwise.

**THE BOARD OF DIRECTORS**

12. The Company shall be managed by a Board of Directors(herein referred to as the Board) comprising five members; three from" Party B " and two from " Party A ", in which the Chairman shall be from "Party B"and Managing Director shall be from "Party A".The remunerations /emoluments of Board will be decided by the Board after formation of the Company.

The proposed Directors in the Memorandum and Article of Association constitute the first Directors of the Company until a new Board is constituted by the first Directors or elected at the first Ordinary General Meeting of the Company.

13. The following matters shall be determined at the Meeting of the Board of Directors;

( 1 ) Increase of the Paid - up Capital of the Company.

( 2 ) Issuance of debentures and Bonds.

( 3 ) Research and development plans.

( 4 ) Annual budgets ( including capital expenditure plans ) and any material deviations there from.

( 5 ) Election or removal of Directors of the Company.

( 6 ) Any other matters as provided in the Articles of Association.

( 7 ) In the case of equality of votes , whether on a show hands or on a poll , the Chairman of the Meeting at which the show of hands take place , or at which the poll is demanded shall be entitled to a second or casting vote.

## FINANCIAL MATTERS

14. All financial and accounting matters shall be determined by the Board according to the provisions mention in the Memorandum and Articles of Association. Net Profit generated by the Company shall be distributed between the contracting parties in accordance with the equity ratio and " Party B " shall be permitted to repatriate its share of profit in foreign exchange with the approval of the Myanmar Investment Commission . Insurance , duties , taxes and other expenses incurred for the Company shall be paid by the Company.

## LAW OF PERFORMANCE

15. All the activities carried out by the management of the Company shall be in accordance with the Laws , Rules and Regulations in force in Myanmar. The Legal Rights of the Company shall be protected by the Laws of Myanmar.

## EXEMPTIONS AND RELIEFS

16. The Company shall be responsible for applying for exemptions of income tax and other reliefs in accordance with the provision of the Foreign Investment Law ( 2013 ).The Company shall enjoy all the favourable terms granted by such Foreign Investment Law in Myanmar.

## INSURANCE

17. The fixed capital of the project shall be insured in Myanmar.

## ACCOUNTING AND AUDITING

18. The books and records of the Company in English Language shall be maintained in accordance with generally accepted international accounting principles and shall accurately reflect the financial position of the Company.

19. The parties hereto agree to cause the books and records of the Company to be audited by the Auditor of the Company who shall be appointed in accordance with Section 145 A of the Myanmar Companies Act. At the end of each fiscal year during the term of this Agreement , such auditor shall yearly provide the Board of Directors with a financial report in Myanmar and English languages in accordance with generally accepted international accounting principles.

20. The fiscal year of the Company shall be the year commencing from 1 st April and ending with 31$^{st}$ March next calendar year.

## DIVIDENDS

21. The net available profit, after deducting income tax and any reserved funds, shall be shared by way of dividends to be proposed by the Board of Directors and declared at the Annual General Meeting of shareholders.The amount of dividend per share shall be determined on the available profit of the Company.The available profits shall include profits of the accounting year and/or any other undistributed profits of the Company.

## APPOINTMENT OF PERSONAL

22. Preference shall be given to Myanmar nationals in the appointment of personnel, Expatriate staff,if required, will be recruited with prior approval and agreement by the Parties.

## CONDITION PRECEDENT TO EFFECTIVENESS

23. This agreement is conditioned up on receipt of all necessary and requisite approval for its performance and implementation of this agreement from relevant Government Authorities in the Union of Myanmar.

## EFFECTIVENESS OF THE AGREEMENT

24. The clause and stipulations agreed under this Agreement shall be honoured and commenced by the respective parties with effect from the date of signing of this Agreement.

## TERM

25. The duration of the Joint Venture shall be for a period of (70)years from the effective date hereto and could be further extended by mutual agreement.

## TERMINATION

26. This agreement shall be terminated up on the occurrence of any of the following events;

( 1 ) Substantial and continuous losses in the Company;

( 2 ) Substantial breach of the condition of Agreement by either party;

( 3 ) Incapability of implementing the original aims and objectives of the Company ;

( 4 ) By agreement in writing of the parties.

27. In the event that the Agreement is terminated in whole or in part under this paragraph the amount payable to " Party A " or payable to " Party B " which has occurred in accordance with this Agreement prior to the date of termination will be settled under mutual agreement.

**FORCE MAJEURE**

28. Notwithstanding any other provision herein contained, if either party is temporarily rendered unable, wholly or in part by Force Majeure to perform his / its duties or accept performance by the other party under this agreement, it is agreed that on the occurrence of such force majeure the party affected by such force majeure shall inform the other party by giving notice with full particulars in writing of such force majeure to the other party within 21 ( twenty one ) days after the occurrence of the cause relied on. In such a case the duties of such party as far as they are affected by force majeure shall with the approval of the other party, by suspended during the continuance of any inability so caused, but for no longer period, and such cause shall as far as possible be removed with all reasonable despatch.

29. Neither party shall be responsible for delays caused by force majeure. The term " Force Majeure "as employed herein shall mean acts of God, strikes , lockouts , industrial disturbances, acts of public enemy , wars , blockades , insurrections , riots , epidemics , civil disturbances, explosions, fires, floods,earthquakes , storms , lightning and any other causes similar to the kind herein enumerated which are not within the control of either party is unable to overcome. Upon the occurrence of such force majeure the affected party shall immediately notify the other party with as much as detail as possible and shall promptly inform the other party of any further developments.

**CONFIDENTIALITY**

30. Each Party shall keep confidential and shall not disclose (except as permitted by this Agreement or any supplementary or other agreement) all proprietary trade secrets and commercial and technical information developed by the Company, or made available to Company by the other.

**NOTICE**

31. All notices,and other communications to be given hereunder shall be in writing, except as otherwise provided herein ,and shall be delivered, by registered mail, or by telex, cable or facsimile transmission at the address shown below;

( 1 ) Thu KhaYadanar Co., Ltd.;

Mail :

Phone /Fax :

email :

( 2 ) China Nuclear Industry 22nd Construction Co., Ltd.

Mail :

Phone/Fax :

email :

